ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Sagaing Tainhong Company Limited မှ PVC ဖုံးအုပ်ထားသော ပလပ်စတစ် အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံ အိမ်သုံးပစ္စည်းများ ထုတ်လုပ်၊ ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၀-၁၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့<br>(ပ ကြိမ်)<br>(ဒု ကြိမ်) | ၁၈-၁-၂၀၁၇<br>၂၁-၂-၂၀၁၇ | ၇-၃-၂၀၁၇ | |
| | (ခ) သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | ၁၇-၁-၂၀၁၇ | ၃၁-၁ -၂၀၁၇ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁၈-၁-၂၀၁၇ | ၈-၂-၂၀၁၇ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၈/၂၀၁၆)သို့ တင်ပြခြင်း | ၂၆-၁၂-၂၀၁၆ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်အကြောင်းကြားခြင်း | ၅-၁-၂၀၁၇ | - | |
| ၅ | **မြေအသုံးပြုခွင့်တင်ပြခြင်း**<br>ကော်မရှင်အစည်းအဝေး (၂/၂၀၁၇) သို့တင်ပြခြင်း | ၂၁-၁-၂၀၁၇ | - | |
| ၆ | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက်အား ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၆-၂-၂၀၁၇ | | |
| ၇ | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြခြင်း | ၂၀-၃-၂၀၁၇ | | |
| ၈ | **ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်တင်ပြခြင်း** | ၅-၅-၂၀၁၇ | | |
| ၉ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံပေးပို့ခြင်း | | ၅-၅-၂၀၁၇ | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၁၃၅) ရက်** | | |

## PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ်ဆောင်ရွက်မှု

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | PAT အကြိမ်နေ့စွဲ | ဆွေးနွေးချက်မှပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Sagaing Tainhong Company Limited | PVC ဖုံးအုပ် ထားသော ပလပ်စတစ် အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံအိမ်သုံး ပစ္စည်းများ ထုတ်လုပ်၊ ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှုလုပ်ငန်း | ၄၈/၂၀၁၆<br>၂၆-၁၂-၂၀၁၆ | (က)လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။<br>(ခ) ခိုင်မာသော ငွေကြေးအထောက်အထား တင်ပြပေးရန်။<br>(ဂ) ဂရန်အမည် ပေါက်ရရှိပါက ပြန်လည်တင်ပြပေးရန်။ | ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး<br>ဂရန်အမည်ပေါက်ရရှိအောင်ဆောင်ရွက်ဆဲဖြစ်သည်။ | "က"<br>"ခ"<br>"ဂ" |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | SagaingTainhong Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာနိုင်နှုန်းပြည်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Mr. Wu, Zongzuan (တရုတ်) ၅၀ %<br>Mr. Liu, Fangyu (တရုတ်) ၅၀ % |
| လုပ်ငန်းအမျိုးအစား | - | PVC ဖုံးအုပ်ထားသောပလပ်စတစ် အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံ အိမ်သုံးပစ္စည်းများထုတ်လုပ်၊ ရောင်းချခြင်းနှင့် တပ်ဆင် ပေးသည့် ဝန်ဆောင်မှု လုပ်ငန်း |
| တည်နေရာ | - | စစ်ကိုင်းတိုင်းဒေသကြီး၊ စစ်ကိုင်းမြို့နယ်၊ ပတ္တမြား ရပ်ကွက်၊ ပတ္တမြား စက်မှုဇုန်၊ တောင်ညို အနောက်၊ အကွက်အမှတ် - ၇၈၃၊ ဦးပိုင်အမှတ် (ဆ/၁၆- က) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၉၅၁,၄၂၈ |
| ထုတ်လုပ်မှုနှင့်ဝန်ဆောင်မှု ပေးမည့်စနစ် | - | ပြည်တွင်း ၁၀၀% |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၁၀ နှစ်၊ သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - | ၂ နှစ် ၊ ၅ လ |
| IRR | - | ၄၈.၅၃ % |

အထက်ပါ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြ အပ်ပါသည် -

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ (တစ်နှစ်) | ကျပ် ၃.၀၀ သန်း | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၀.၆၇ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၂၉.၇၅ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၅၅၀.၄၀ သန်း | ကျပ် ၁,၁၁၀.၁၁ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၃၅၀.၉၅ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၇.၅၀ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ် သိန်း (၄၈)ကျော် ပါက အခွန်ပေးရမည့်ဝန်ထမ်း (၁၅) ဦး |
| ၈ | CSR ( %) | | ကျပ် ၆၆.၆၁ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၅၇ ဦး |
| | | | ပြည်တွင်းလုပ်သား(၅၇)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ဒေသအလုပ် အကိုင်အခွင့် အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက် မှုကို အထောက်အကူ ပြုစေပါသည်။ |
| | စုစုပေါင်း | ကျပ် ၅၈၃.၁၅ သန်း | ကျပ် ၁,၅၄၅.၈၄ သန်း |
| | | ၁း၃ | |

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Sagaing Tainhong Company Limited မှ PVC ဖုံးအုပ်ထားသော ပလပ်စတစ် အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံ အိမ်သုံးပစ္စည်းများ ထုတ်လုပ်၊ ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - **Sagaing Tainhong Company Limited**<br>- Mr. Wu, Zongzuan (တရုတ်) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Mr. Wu, Zongzuan (တရုတ်) ၅၀ %<br>- Mr. Liu, Fangyu (တရုတ်) ၅၀ % |
| | လုပ်ငန်းအမျိုးအစား | - PVC ဖုံးအုပ်ထားသော ပလပ်စတစ်အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံအိမ်သုံးပစ္စည်းများ ထုတ်လုပ်၊ ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှု လုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်(ဆ/၁၆-က)၊ အကွက်အမှတ်-၇၈၃၊ တောင်ညိုအနောက်၊ ပတ္တမြားစက်မှုဇုန်၊ ပတ္တမြား ရပ်ကွက်၊ စစ်ကိုင်း မြို့နယ်၊ စစ်ကိုင်းတိုင်းဒေသကြီး |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၁ ဧက (၄,၀၄၆.၈၆ စတုရန်းမီတာ) |
| | အဆောက်အဦ | - ၁ လုံး |
| | မြေပိုင်ရှင် | - ဦးဘကြည်စိန် |
| | မြေငှားရမ်းကာလ | - ကနဦး ၁၀ နှစ်(သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၃။ | နှစ်စဉ်မြေနှင့် အဆောက်အဦးငှားရမ်းခ | - US$ ၈,၀၉၃.၇၁<br>တစ်စတုရန်းမီတာလျှင် US$ ၂.၀၀ နှုန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၁၀နှစ်(သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - US$ ၉၅၁,၄၂၈ |
| | ထည့်ဝင်သည့် အမျိုးအစား | US$ |
| | ငွေသား | ၁၅၀,၀၀၀ |
| | Machine for Pipe Creating (Import) | ၂၅၅,၈၃၆ |
| | Machiney for Roofing Tiles (Import) | ၃၂၂,၉၃၁ |
| | Mould Machine (Import) | ၁၆,၃၂၄ |
| | Office Equipments | ၂၀,၂၅၂ |
| | Furniture & Fixture | ၈,၀၇၇ |
| | Vehicles | ၇၈,၃၀၈ |
| | Land Lease Payment | ၉၉,၇၀၀ |
| | **စုစုပေါင်း** | ၉၅၁,၄၂၈ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - ၆၂ ဦး |
| | ပြည်တွင်း | ၅၇ဦး အနိမ့်ဆုံးဝန်ထမ်းလစာမှာ ကျပ် ၁၂၀,၀၀၀<br>အမြင့်ဆုံးဝန်ထမ်းလစာမှာကျပ် ၁,၂၀၀,၀၀၀ |
| | ပြည်ပ | ၅ ဦး အနိမ့်ဆုံးလစာမှာ US$ ၈၀၀<br>အမြင့်ဆုံးလစာမှာ US$ ၁,၅၀၀ |
| ၇။ | ဝန်ဆောင်မှုပေးမည့် နည်းစနစ် | ၁၀၀% ပြည်တွင်း |
| ၈။ | ကုမ္ပဏီ၏ ဆဋ္ဌမနှစ်မြောက် | |
| | ဝင်ငွေ | ကျပ် ၁,၇၈၇.၄၀ သန်း |
| | အသုံးစရိတ် | ကျပ် ၁,၁၇၄.၈၃ သန်း |
| | အသားတင်အမြတ် | ကျပ် ၆၁၂.၅၇ သန်း |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>(ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၂၀၄.၁၉ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၆၆.၄၈ သန်း |
| | အရင်းကြေကာလ | - ၂ နှစ်၊ ၅ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၄၈.၅၃ % |
| ၁၀။ | လျှပ်စစ်ဓာတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၁၂၀,၀၀၀ units |
| ၁၁။ | နှစ်စဉ်ဝန်ဆောင်မှုပေးမည့်<br>အမျိုးအစားနှင့် နှုန်းများ (ဆဋ္ဌမနှစ်) | |

**ထုတ်လုပ်မှုပေးမည့်အမျိုးအစား:**

| | အရေအတွက် Sq. ft | ဈေးနှုန်း Sq. ft/Kyat |
|---|---|---|
| Roofing Sheets | ၁,၆၈၄,၆၁၅ | ၃၂၅ |
| Roofing Tiles | ၂,၄၈၄,၆၁၅ | ၃၂၅ |
| Steel Products | ၆၃,၀၇၇ | ၆၅၀ |

**ဝန်ဆောင်မှုပေးမည့်အမျိုးအစား:**

**PVC Coded Installation**

| | အရေအတွက် Sq. ft | ဈေးနှုန်း Sq. ft/Kyat |
|---|---|---|
| Roofing Sheets | ၂,၈၈၄,၆၁၅ | ၆၅ |
| Roofing Tiles | ၂,၈၈၄,၆၁၅ | ၆၅ |
| Steel Products | ၆၃,၀၇၇ | ၂၀ |

| | | |
|---|---|---|
| ၁၂။ | အခြားတင်ပြချက်များ | - ရာခိုင်နှုန်းပြည့် ကုမ္ပဏီတည်ထောင်မည့် Sagaing Tainhong Company Limited ၏ ကုမ္ပဏီ မှတ်ပုံ တင်လက်မှတ်(မိတ္တူ)၊ ကုမ္ပဏီတွင်ပါဝင်မည့် ဒါရိုက်တာ များ၏ နိုင်ငံကူးလက်မှတ်(မိတ္တူ)နှင့် ဒါရိုက်တာ စာရင်း များ တင်ပြထားပါသည်။<br>- လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ထပ်မံ တည်ဆောက် မည့် အဆောက်အဦပုံစံ၊ တင်သွင်းမည့် စက်ပစ္စည်း များ၏ နမူနာပုံစံများအား တင်ပြ ထားပါသည်။<br>- အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ဦးဘကြည်စိန် နှင့် Sagaing Tainhong Company Limited တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦအား ငှားရမ်းခြင်း စာချုပ် (မူကြမ်း) အား တင်ပြထားပါသည်။<br>- ကုမ္ပဏီမှလုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်း သက်သာ ချောင်ချိရေးအစီအစဉ်၊လုပ်ငန်း၏နှစ်စဉ် အသားတင် အမြတ်ငွေ၏ ၂ % ကို လူမှုဘဝသာယာဝပြောရေး တာဝန်ယူမှု(Corporate Social Responsibility - CSR) အဖြစ် သုံးစွဲ မည်ဖြစ်ကြောင်းနှင့် လစာခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုချက်များ တင်ပြထား ပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Mr. Wu, Zongzuan အမည်ဖြင့် China Construction ဘဏ်တွင် ၂၉-၁၂-၂၀၁၆ ရက်စွဲဖြင့် ယွမ် ၂,၂၃၀,၇၄၂.၁၉ (US$ ၃၂၄,၃၇၂.၇၅) နှင့် Mr. Liu, Fangyu အမည်ဖြင့် Agricultural Bank of China Limited Kunming Dongju ဘဏ်ခွဲတွင် ၂၉-၁၂-၂၀၁၆ ရက်စွဲ ဖြင့် ယွမ် ၁,၂၁၉,၄၅၁.၈၅ (US$ ၁၇၇,၂၄၁.၃၃) ရှိကြောင်း တင်ပြထားပါ သည်။<br>- စက်မှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် စစ်ကိုင်း စက်မှုဇုန်တည်ဆောက်ရေး ကော်မတီမှ ဦးစိုးသန်း အားမြေနေရာချပေးထားသည့် အထောက်အထား |

| | | |
|---|---|---|
| | | များ တင်ပြထားပါသည်။ ဦးစိုးသန်း အမည်မှ ကုမ္ပဏီသို့ ဌားရမ်းမည့် ဦးဘကြည်စိန် အမည်သို့ အမည်ပြောင်း လျှောက်ထားသည့် အထောက်အထား အား တင်ပြထားပါသည်။<br>- နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြု ရန် လျှောက်ထားလာပါသည်။<br>- အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်နေ့ တွင် ထုတ်ပြန်ထားသောအမိန့်ကြော်ငြာစာ အမှတ်၂၆/၂၀၁၆ ဖြင့် ထုတ်ပြန်ထားသည့် စီးပွားရေး အမျိုးအစား တွင် ခွင့်မပြုသည့် လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက် ခွင့်ပြု သည့် လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်း စာရင်း တို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သောလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။ |
| ၁၃။ | မီးဘေးကာကွယ်ရေးအစီအစဉ် | - မီးဆောအန္တရာယ်ကြိုတင်ကာကွယ်ရေး အစီအမံများ ရေးဆွဲ တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/န-၀၁၉/၂၀၁၇(၂၁၇)
ရက်စွဲ ၂၀၁၇ ခုနှစ်၊ မေလ ၃၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sagaing Tainhong Company Limited မှ PVC ဖုံးအုပ်ထားသောပလပ်စတစ် အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံ အိမ်သုံးပစ္စည်းများ ထုတ်လုပ်၊ ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Mr. Wu, Zongzuan မှ ၅၀ % နှင့် Mr. Liu, Fangyu မှ ၅၀%ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Sagaing Tainhong Company Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်(ဆ/၁၆-က)၊ အကွက်အမှတ်-၇၈၃၊ တောင်ညိုအနောက်၊ ပတ္တမြားစက်မှုဇုန်၊ ပတ္တမြားရပ်ကွက်၊ စစ်ကိုင်းမြို့နယ်၊ စစ်ကိုင်းတိုင်းဒေသကြီးရှိမြေ ၁ ဧက (၄,၀၄၆.၈၆ စတုရန်းမီတာ)ရှိမြေနှင့် အဆောက်အဦတို့ကိုငှားရမ်း၍ PVC ဖုံးအုပ်ထားသော ပလပ်စတစ်အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံ အိမ်သုံးပစ္စည်းများထုတ်လုပ်၊ ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ဦးဘကြည်စိန်နှင့် Sagaing Tainhong Company Limited တို့အကြားချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်(မူကြမ်း)၊ မြန်မာနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်မည့် Sagaing Tainhong Company Limited ၏ ဒါရိုက်တာစာရင်း၊ နိုင်ငံကူးလက်မှတ်ပုံတင်လက်မှတ် (မိတ္တူ) နှင့် အဆောက်အဦ၏ ပုံစံတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့် မြေဧရိယာ ၁.၀ ဧက (၄,၀၄၆.၈၆စတုရန်းမီတာ) အတွက် နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခနှုန်းမှာ US$ ၈,၀၉၃.၇၁ ဖြစ်ပြီး (၁) နှစ် တစ်စတုရန်းမီတာလျှင် US$ ၂.၀၀ နှုန်းဖြင့်ငှားရမ်းမည်ဖြစ်ပါသည်။ မြေငှားသက်တမ်းမှာကနဦး ၁၀နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် ၂ ကြိမ် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာကနဦး ၁၀ နှစ် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ တည်ဆောက်မှုကာလမှာ ၁ နှစ် ဟုတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၉၅၁,၄၂၈ ဖြစ်ပြီး ထည့်ဝင်မှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | US$ |
|---|---|
| ငွေသား | ၁၅၀,၀၀၀ |
| Machine for Pipe Creating (Import) | ၂၅၅,၈၃၆ |
| Machinery for Roofing Tiles (Import) | ၃၂၂,၉၃၀ |
| Mould Machine (Import) | ၁၆,၃၂၄ |
| Office Equipments | ၂၀,၂၅၂ |
| Furniture & Fixture | ၈,၀၇၇ |
| Vehicles | ၇၈,၃၀၈ |
| Land Lease Payment | ၉၉,၇၀၀ |
| **စုစုပေါင်း** | **၉၅၁,၄၂၈** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ် တွင် ပြည်တွင်းမှ ဝန်ထမ်း (၅၇)ဦးနှင့် ပြည်ပမှ ဝန်ထမ်း(၅)ဦးခန့်ထားမည် ဖြစ်ပြီး စုစုပေါင်းဝန်ထမ်း (၆၂)ဦး ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပြီး၊ ပြည်ပမှ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၈၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော PVC ဖုံးအုပ်ထားသော ပလပ်စတစ် အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံအိမ်သုံးပစ္စည်းများကို ထုတ်လုပ်ပြီး ပြည်တွင်း ၁၀၀% ရောင်းချပြီးဝန်ဆောင်မှု ပေးမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်)၏ထုတ်လုပ်မှု၊ ဝန်ဆောင်မှု အရေအတွက်နှင့် ဈေးနှုန်းများ မှာအောက်ပါအတိုင်းဖြစ်ပါသည် -

| **ထုတ်လုပ်မှုပေးမည့်အမျိုးအစား** | **အရေအတွက် (Sq. ft)** | **ဈေးနှုန်း (Sq. ft/Kyat)** |
|---|---|---|
| Roofing Sheets | ၁,၆၈၄,၆၁၅ | ၃၂၅ |
| Roofing Tiles | ၂,၄၈၄,၆၁၅ | ၃၂၅ |
| Steel Products | ၆၃,၀၇၇ | ၆၅၀ |
| **ဝန်ဆောင်မှုပေးမည့်အမျိုးအစား** | **အရေအတွက်** | **ဈေးနှုန်း** |
| **PVC Coded Installation** | **(Sq. ft)** | **(Sq. ft/Kyat)** |
| Roofing Sheets | ၂,၈၈၄,၆၁၅ | ၆၅ |
| Roofing Tiles | ၂,၈၈၄,၆၁၅ | ၆၅ |
| Steel Products | ၆၃,၀၇၇ | ၂၆၀ |

၈။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့်ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာအောက်ပါအတိုင်း ဖြစ်ပါသည် -

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁,၇၈၇.၄၀ |
| ( ခ ) | အသုံးစရိတ် | ၁,၁၇၄.၈၃ |
| ( ဂ ) | အသားတင်အမြတ် | ၆၁၂.၅၇ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေ မှာ ဝင်ငွေခွန် ကျပ် ၂၀၄.၁၉ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၆၆.၄၈ သန်း ရရှိမည် ဖြစ်ပါသည်။ အရင်းကြေကာလမှာ ၂ နှစ် နှင့် ၅ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၄၈.၅၃ % ဖြစ်ပါသည်။ (US$တစ်ဒေါ်လာလျှင် ၁,၃၀၀ ကျပ်နှုန်းဖြင့် တွက်ချက် ဖော်ပြထားပါ သည်။)

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှာ အောက်ပါအတိုင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်-

(က) **စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့**မှစစ်ကိုင်းမြို့၊ ပတ္တမြားစက်မှုဇုန်အတွင်းတွင် စက်ရုံတည်ဆောက်ခွင့်ရရှိပါကဒေသခံပြည်သူများ၏ အလုပ်အကိုင်အခွင့် အလမ်းများ ရရှိစေခြင်း၊ ဒေသခံပြည်သူများ အလုပ်အကိုင်များ ရရှိပါကပြည်သူများ၏လူမှု ဘဝ၊ စီးပွားရေး၊ လူမှုရေးဖွံ့ဖြိုးတိုးတက်လာစေခြင်း၊ နယ်မြေဒေသအတွင်း သင့်တင့်သော ဈေးနှုန်းဖြင့် အိမ်သုံးပစ္စည်းများ ဝယ်ယူသုံးစွဲလာနိုင်ခြင်း၊ နယ်မြေ ဒေသအတွင်း အလုပ်လက်မဲ့ပြဿနာများဖြေရှင်းပေးနိုင်ခြင်း၊ နိုင်ငံတကာအဆင့်ဆင့် တွင် ဆောင်ရွက်နေသောနည်းပညာများရရှိသုံးစွဲနိုင်ခြင်း၊ ဒေသတွင်း လူမှုဘဝ၊ စီးပွားရေးဖွံ့ဖြိုး တိုးတက်လာပြီး ဒေသတွင်းGDP နှင့်တစ်ဦးချင်းဝင်ငွေမြင့်မား လာစေခြင်း၊ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများတိုးတက်လာခြင်း၊ ကျွမ်းကျင် လုပ်သား များရရှိလာခြင်းတို့ကြောင့် အခြားရင်းနှီးမြှုပ်နှံမည့် စီးပွားရေးလုပ်ငန်းများဖိတ်ခေါ် ၍ဆောင်ရွက်နိုင်ခြင်းစသည့် အကျိုးကျေးဇူးများ ရရှိနိုင်ကြောင်း တွေ့ရှိရသဖြင့် စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန**မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ အောက်ပါအချက်များ အတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်များ ပြန်ကြား ထား ပါသည် -

(၁) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု **(Corporate Social Responsibility - CSR)**အတွက် အသားတင် အမြတ်ငွေ၏ (၂%)အားအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာအကောင် အထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ် ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းတွင် ဖော်ပြပါရှိသော ညွှန်ကြားချက်များနှင့်အညီ အစီရင်ခံစာ ရေးသား တင်ပြရန်။

(၃) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့်ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီး ဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။ **(ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး**

**ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အညီလိုက်နာမည် ဖြစ်ကြောင်းနှင့် EMP Plan အား ပြန်လည်တင်ပြပေးမည်ဖြစ်ကြောင်း သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ပေးပို့ထားသည့်စာအားတင်ပြထားပါသည်။)**

**နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းတွင် လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန်နှင့် ၄င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲရန်လိုအပ်ကြောင်း၊ (Value Added) တန်ဖိုးမြှင့် ကုန်ထုတ်လုပ်ငန်းလုပ်ကိုင်ခြင်းနှင့် အလုပ်အကိုင် အခွင့်အလမ်းများ ပိုမို ရရှိနိုင်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ PVC ပလတ်စတစ် ကော်စေ့များနှင့် စတီးလ်ပိုက်ဆိုဒ်မျိုးစုံခွေရန် လိုအပ်သည့် စတီးလ်ပြားများအား ပြည်တွင်းဈေးကွက်မှ မှာယူသည့် အလုပ်အမှာစာအပေါ်မူတည်၍ ဝယ်ယူ ဆောင်ရွက်မည်ဖြစ်ခြင်းနှင့် စက်ပစ္စည်းများသည် လုပ်ငန်း ဆောင်ရွက်ရာတွင် အသုံးပြုသည့် စက်များဖြစ်ပါကြောင်းသဘောထား မှတ်ချက်အားပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်းတင်ပြထားပါသည်။**

**နောက်ဆက်တွဲ(ဂ)**

၁၁။ ငွေကြေးအထောက်အထားအဖြစ်Mr. Wu, Zongzuan အမည်ဖြင့်China Construction ဘဏ်တွင် ၂၉-၁၂-၂၀၁၆ ရက်စွဲဖြင့်ယွမ် ၂,၂၃၀,၇၄၂.၁၉ (US$ ၃၂၄,၃၇၂.၇၅) နှင့် Mr. Liu, Fangyu အမည်ဖြင့် Agricultural Bank of China Limited Kunming Dongju ဘဏ်ခွဲတွင် ၂၉-၁၂-၂၀၁၆ ရက်စွဲဖြင့် ယွမ် ၁,၂၁၉,၄၅၁.၈၅ (US$ ၁၇၇,၂၄၀.၃၃) ရှိကြောင်း တင်ပြ ထားပါသည်။

၁၂။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်အား ကုမ္ပဏီမှ မီးဘေးအန္တရာယ် ကာကွယ်ရေးအတွက် ဆောင်ရွက်ထားရှိမှု အစီအမံများကို တင်ပြထားပါသည်။

၁၃။ Sagaing Tainhong Company Limited မှ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ လုပ်ငန်းများအတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းပါရှိသည့် Corporate Social Responsibility Plan၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်းကတိဝန်ခံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်၊ လျှပ်စစ်ဓာတ်အားရယူသုံးစွဲမည့် အစီအစဉ်တို့ကိုတင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၆ခုနှစ် မတ်လ၂၁ ရက်နေ့ တွင် ထုတ်ပြန်သောအမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆ စီးပွားရေးလုပ်ငန်း အမျိုးအစား ပြင်ဆင် သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည် လုပ်ငန်းစာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၁၆။ အဆိုပြုလုပ်ငန်းအား ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၈/၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၇။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရအဆိုပြုလုပ်ငန်းအား ပုဂ္ဂလိကမြေတွင်ငှားရမ်း ဆောင်ရွက်ခွင့်အား၂၀၁၆ ခုနှစ်သြဂုတ်လ ၁၉ ရက်နေ့တွင် ကျင်းပသည့် ပြည်ထောင်စု အစိုးရအဖွဲ့ (၁၀/၂၀၁၆) အစည်းအဝေးသို့ တင်ပြပြီး ဖြစ်ပါသည်။

၁၈။ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အားဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၉။ Sagaing Tainhong Company Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်(ဆ/၁၆)၊ တောင်ညိုအနောက်၊ အကွက် အမှတ်-၇၈၃၊ ပတ္တမြားစက်မှုဇုန်၊ပတ္တမြားရပ်ကွက်၊ စစ်ကိုင်းမြို့နယ်၊စစ်ကိုင်းတိုင်းဒေသကြီးရှိမြေ ၁ ဧက (၄,၀၄၆.၈၆ စတုရန်းမီတာ)ရှိမြေနှင့် အဆောက်အဦတို့ကိုငှားရမ်း၍ PVC ဖုံးအုပ်ထားသော ပလပ်စတစ်

အမိုးပြားများ၊ စတီးပိုက်ဖြင့်ဒီဇိုင်းစုံ အိမ်သုံးပစ္စည်းများထုတ်လုပ်၊ ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ - မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | SagaingTainhongCompany Limited | (1)Mr. Wu Zongzuan<br>Managing Director<br>Chinese<br>PP No. E 06052532<br><br>(2) Mr. Liu. Fangyu<br>Director<br>Chinese<br>PP No. E 06052508 | No. D 2 -9 Large Vehicle park market, Dong Juqipichong, Guanyu Road, Kunimg City, China.<br>No. D 2 -9 Large Vehicle park market, Dong Juqipichong, Guanyu Road, Kunimg City, China. |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ - ၀၉ ၅၃၀ ၀၈၄၃

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဦးသိန်းဌွေး

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - PVC ဖုံးအုပ်ထားသော ပလပ်စတစ် အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံ အိမ်သုံးပစ္စည်းများ ထုတ်လုပ်၊ ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှု လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -

(နောက်ဆက်တွဲ - က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
စစ်ကိုင်းတိုင်းဒေသကြီး၊မုံရွာမြို့

စာအမှတ် ၊၃ / ၆-၂(၆)/ (၂ ၄၀ )ရင်းနှီးမြှုပ်နှံ
ရက်စွဲ ၊ ၂၀၁၇ခုနှစ် ၊ မတ် လ ၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈.၁.၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/န-၀၂၇/၂၀၁၇(၀၃၁)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Mr.Wu Zongzuanမှ ၅၀%နှင့်Mr.Liu.Fangyu ၅၀%ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Sagaing Tainhong Company Limited တည်ထောင်က စစ်ကိုင်းတိုင်းဒေသကြီး၊ စစ်ကိုင်းမြို့နယ်၊ ပတ္တမြားရပ်ကွက်၊ ပတ္တမြားစက်မှုဇုန်၊ အကွက်အမှတ် (၇၈၃) တောင်ညိုအနောက်၊ ဦးပိုင်အမှတ်(ဆ/၁၆)ရှိမြေ (၂)ဧက(၈၀၉၃.၇၂စတုရန်းမီတာ)တွ PVC ဖုံးအုပ်ထားသော ပလပ်စတပ်အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံအိမ်သုံးပစ္စည်းမျ ထုတ်လုပ်၊ ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံ နည်းဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်( လာပါသဖြင့် သဘောထား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်ချက်အရ အောက်ပါအချက်များ( စိစစ်တွေ့ရှိ ရပါသည်-

(က) အဆိုပါမြေကွက်သည် စစ်ကိုင်းမြို့နယ်၊ ပတ္တမြားရပ်ကွက်၊ပတ္တမြားစက်မှုဇ အကွက်အမှတ်(၇၈၃)၊တောင်ညိုအနောက် ဦးပိုင်အမှတ်(ဆ/၁၆)၊ ဧရိယ (၂)ဧက (၈၀၉၃.၇၂)စတုရန်းမီတာရှိ စက်မှုဇုန်မြေကွက်ဖြစ်ပါသည်။ အဆို( မြေကွက်သည် အလျား(၄၁၅)ပေ၊ အနံ(၂၀၈)ပေခန့်ရှိပြီး ၎င်းဧရိယာအတွင် မြို့နယ်စည်ပင်သာယာရေးအဖွဲ့၏ ခွင့်ပြုချက်ဖြင့်(၁၂၅×၃၇၅)ပေ Ste (၁)ထပ် အဆောက်အဦး(အပြာ) အား ဆောက်လုပ်ပြီးစီးကြောင်းတွေ့ရှိရ( သည်။ သို့အတွက် ရင်းနှီးမြှုပ်နှံမှုပြုသည့်နေရာ စက်မှုဇုန်မြေနေရာအတွင် ပါဝင်ပြီး လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိသော မြေနေရာဖြစ်ကြောင် တွေ့ရှိရပါသည်။

(ခ) အဆိုပါ အဆောက်အဦးတွင် စက်ပစ္စည်းများ တပ်ဆင်အသုံးပြုနေခြင်း မရှိသေ သော်လည်း တာဝန်ရှိသူ၏ တင်ပြချက်အရPVCဖုံးအုပ်ထားသော ပလပ်စတ အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်စုံ အိမ်သုံးပစ္စည်းများထုတ်လု ဆောင်ရွက်မည်ဆိုပါက လုပ်သားအင်အား(၄၀)ခန့် ဝန်ထမ်းအဖြစ်ခန့်အပ်နိုင်

D DTTA( DICA-2017114

ပြီး ဒေသနေ ပြည်သူများအတွက် အလုပ်အကိုင် အခွင့်အလမ်းများရရှိနိုင် မည်ဖြစ်၍ ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် များစွာ အထောက်အကူ ဖြစ်လာနိုင်ကြောင်း တွေ့ရှိရပါသည်။

(ဂ) အဆိုပါ စက်ရုံ၏ မြောက်ဘက်တွင် ပလပ်စတစ်စက်ရုံ၊ တောင်ဘက်တွင် လမ်းခြားပြီး ရွှေမြန်မာသံနန်းဆွဲစက်ရုံ၊ စက်ရုံအရှေ့ဘက်တွင် ပလပ်စတစ်ကြိုးစက်ရုံနှင့် အနောက်ဘက်တွင် စိုးလင်းသံရည်ကြိုစက်ရုံတို့ တည်ရှိလည်ပတ်နေသဖြင့် ဒေသခံပြည်သူများအတွက် လူမှုရေး၊ စီးပွားရေးနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုများအရ ထိခိုက်မှုမရှိနိုင် သဖြင့် စက်ရုံတည်ဆောက်မှု လက်ခံနိုင်ကြောင်းတွေ့ရှိရပါသည်။

(ဃ) အဆိုပါစက်ရုံမြေနေရာသည် စစ်ကိုင်းမြို့နယ်၊ ပတ္တမြားစက်မှုဇုန်အတွင်းရှိ အကွက်အမှတ် (၇၈၃)၊ တောင်ညိုအနောက်၊ ဦးပိုင်အမှတ်(ဆ/၁၆) စက်မှုဇုန်အတွင်းဖြစ်ပြီး အဆိုပြုလုပ်ငန်းဖြစ်သော PVC ဖုံးအုပ်ထားသော ပလပ်စတစ်အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံ အိမ်သုံးပစ္စည်းများ ထုတ်လုပ်ရောင်းချနိုင်သည့် အကျယ်အဝန်းရှိကြောင်း တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ စစ်ကိုင်းမြို့၊ ပတ္တမြားစက်မှုဇုန်အတွင်း ရည်ညွှန်းပါစက်ရုံ တည်ဆောက်ခွင့်ရရှိပါက အောက်ပါအတိုင်း အကျိုးကျေးဇူးများရရှိနိုင်ကြောင်း တွေ့ရှိရသဖြင့် စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြား အပ်ပါ သည် -

(က) ဒေသခံပြည်သူများ၏ အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေခြင်း၊

(ခ) ဒေသခံပြည်သူများ အလုပ်အကိုင်များရရှိပါက ပြည်သူများ၏ လူမှုဘဝ၊ စီးပွားရေး၊ လူမှုရေး ဖွံ့ဖြိုးတိုးတက်လာစေခြင်း၊

(ဂ) နယ်မြေဒေသအတွင်း သင့်တင့်သော ဈေးနှုန်းဖြင့် အိမ်သုံးပစ္စည်းများ ဝယ်ယူသုံးစွဲလာနိုင်ခြင်း၊

(ဃ) နယ်မြေဒေသအတွင်း အလုပ်လက်မဲ့ ပြဿနာများ ဖြေရှင်းပေးနိုင်ခြင်း၊

(င) နိုင်ငံတကာအဆင့်ဆင့်တွင် ဆောင်ရွက်နေသော နည်းပညာများ ရရှိသုံးစွဲနိုင်ခြင်း၊

(စ) ဒေသတွင်း လူမှုဘဝ၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်လာပြီး ဒေသတွင်းGDPနှင့် တစ်ဦးချင်းဝင်ငွေမြင့်မားလာစေခြင်း၊

(ဆ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ တိုးတက်လာခြင်း၊ ကျွမ်းကျင်လုပ်သားများ ရရှိလာခြင်းတို့ကြောင့် အခြားရင်းနှီးမြှုပ်နှံမည့် စီးပွားရေးလုပ်ငန်းများ ဖိတ်ခေါ်၍ ဆောင်ရွက်နိုင်ခြင်း၊

၇/၃/၂၀၁၇

ဝန်ကြီးချုပ်(ကိုယ်စား)

( စိုးဦး၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး )

မိတ္တူကို

တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊မုံရွာမြို့

ခရိုင်စီမံခန့်ခွဲမှုကော်မတီ၊စစ်ကိုင်းမြို့

ဦးသိန်းငွေး၊ Sagaing Tainhong Company Limited.

ရုံးလက်ခံ

မျှောစာတွဲ

(နောက်ဆက်တွဲ - ခ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS) / ၀၁ ( ၅၂/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၃၁ ရက်

MY-0062
31/1/17

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Sagaing Tainhong Company Limited မှ PVC ဖုံးအုပ်ထားသော ပလပ်စတစ်အမိုးပြားများ၊ စတီးပိုက်များဖြင့် ဒီဇိုင်းစုံအိမ်သုံးပစ္စည်းများ ထုတ်လုပ်၊ ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ န- ၀၂၇/ ၂၀၁၇ (၀၂၉)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Mr. Wu Zongzuan မှ ၅၀% နှင့် Mr. Liu. Fangyu မှ ၅၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Sagaing Tainhong Company Limited တည်ထောင်ကာ စစ်ကိုင်းတိုင်းဒေသကြီး၊ စစ်ကိုင်းမြို့နယ်၊ ပတ္တမြားရပ်ကွက်၊ ပတ္တမြားစက်မှုဇုန်၊ အကွက်အမှတ်-၇၈၃၊ တောင်ညိုအနောက်၊ ဦးပိုင်အမှတ်- ဆ/၁၆ ရှိ မြေ ၂ ဧက (၈,၀၉၃.၇၂ စတုရန်းမီတာ) ပေါ်တွင် PVC ဖုံးအုပ်ထားသော ပလပ်စတစ်အမိုးပြားများ၊ စတီးပိုက်များဖြင့် ဒီဇိုင်းစုံအိမ်သုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှုလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအားစိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုရန် အဆိုပြုလာသောလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုကာလမှာ (၁၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် ဆောင်ရွက်သွားမည်ဖြစ်ကာ လုပ်ငန်းတည်ဆောက်ရေးကာလမှာ (၁) နှစ်ခန့် ဖြစ်ကြောင်း၊

(ခ) လုပ်ငန်းခွင်အတွင်း ဝန်ထမ်းများ၏ သက်သာချောင်ချိရေး၊ ပညာရေး၊ လုပ်ငန်းခွင်အတတ်ပညာ သင်တန်းပေးခြင်းများ၊ မီးဘေးကာကွယ်ရေး အစီအစဉ်များကိုလည်း ထည့်သွင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အနေဖြင့် လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(ဃ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ်များ ရေးဆွဲရာတွင်လည်း အကြိုတည်ဆောက်မှု လုပ်ငန်းဆောင်ရွက်ခြင်း၊ တည်ဆောက်ခြင်း၊ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်း၊ လုပ်ငန်းရပ်ဆဲခြင်းနှင့် လုပ်ငန်းရပ်ဆဲပြီးကာလဟူ၍ လုပ်ငန်းအဆင့်အသီးသီးအလိုက် ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရန်အတွက် ဆောင်ရွက်မည့် အစီအမံများ၊ အရေးပေါ်အစီအစဉ်များကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း

ရေးဝန်ကြီးဌာနမှ ချမှတ်ထားသော ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Sagaing Tainhong Company Limited မှ PVC ဖုံးအုပ်ထားသော ပလပ်စတစ်အမိုးပြားများ၊ စတီးပိုက်များဖြင့် ဒီဇိုင်းစုံအိမ်သုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် အသုံးပြုမည့် PVC ပလပ်စတစ်အမိုးပြားများ၊ စတီးပိုက်ဖြတ်စ၊ ညှပ်စများစသည့် ကုန်ကြမ်းပစ္စည်းများသည်ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သည့်အတွက် မြေဆီလွှာကိုထိခိုက်ပျက်စီးခြင်း၊

(ခ) အမိုးပြားများနှင့် စတီးပိုက်များ ပုံစံသွင်းခြင်းနှင့် ဖရန်ခွေခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် ဖြတ်တောက်ခြင်း၊ ဂဟေဆော်ခြင်း၊ ပုံစံသွင်းခြင်း၊ ကျောက်စက်တိုက်ခြင်း လုပ်ငန်းအဆင့်များမှထွက်ရှိလာမည့် ညော်နံ့များ၊ အခိုးအငွေ့များ၊ ဆူညံသံများကြောင့် ဝန်ထမ်းများနှင့် ပတ်ဝန်းကျင်ရှိပြည်သူများ၏ ကျန်းမာရေးကိုထိခိုက်နိုင်ခြင်း၊

(ဂ) တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရာတွင် မြေပြုပြင်ခြင်းနှင့် လုပ်ငန်းသုံးစက်၊ ယာဉ်ယန္တရားများကြောင့် အသံဆူညံမှုဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) PVC ပလပ်စတစ်သည် မီးလောင်ရန်လွယ်ကူသော ပစ္စည်းတစ်မျိုးဖြစ်ပြီး လုပ်ငန်းအဆင့်ဆင့်မှထွက်ပေါ်လာမည့် Polymeric dust နှင့် အခိုးအငွေ့များကြောင့် လေထုညစ်ညမ်းခြင်း၊ ဓာတုအဆိပ် (ဒိုင်အောက်စင်) များထွက်ရှိခြင်း၊ ဒိုင်အောက်စင်ဓာတ်ငွေ့ကြောင့် ကင်ဆာအမျိုးမျိုး ဖြစ်စေနိုင်ခြင်း၊ ဝန်ထမ်းများ၏ အဆုတ်နှင့်အသက်ရှူလမ်းကြောင်းဆိုင်ရာ ကျန်းမာရေးကို ဆိုးရွားစွာထိခိုက်စေခြင်းစသော လူနှင့်ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Sagaing Tainhong Company Limited မှ PVC ဖုံးအုပ်ထားသော ပလပ်စတစ်အမိုးပြားများ၊ စတီးပိုက်များဖြင့်ဒီဇိုင်းစုံ အိမ်သုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းနှင့် တပ်ဆင်ပေးသည့် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Res ponsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင်ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်

ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan - EMP) အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းတွင် ဖော်ပြပါရှိသော ညွှန်ကြားချက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်၊

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ် ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

20/7/17

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ စစ်ကိုင်းတိုင်းဒေသကြီး
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

NPT-531
9.2.2017

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၂၉၄၁)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၈ ရက်

သို့

ηЧ-0100
10/2/17

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈.၁.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/ န-၀၂၇/ ၂၀၁၇(၀၃၂)

၁။ Sagaing Tainhong Company Limited မှ စစ်ကိုင်းတိုင်းဒေသကြီး၊ စစ်ကိုင်းမြို့နယ်၊ ပတ္တမြားရပ်ကွက်၊ ပတ္တမြားစက်မှုဇုန်၊ အကွက်အမှတ်(၇၈၃)၊ တောင်ညိုအနောက်၊ ဦးပိုင်အမှတ်(ဆ/၁၆)တွင် PVC ဖုံးအုပ်ထားသော ပလတ်စတစ် အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံ အိမ်သုံးပစ္စည်းများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဂ) (Value Added) တန်ဖိုးမြှင့် ကုန်ထုတ်လုပ်ငန်းလုပ်ကိုင်ခြင်းနှင့် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိနိုင်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

( ဂ ) PVC ပလတ်စတစ်ကော်စေ့များနှင့် စတီးလ်ပိုက်ဆိုဒ်မျိုးစုံခွေရန် လိုအပ်သည့် စတီးလ်ပြားများအား ပြည်တွင်းဈေးကွက်မှ မှာယူသည့် အလုပ်အမှာစာအပေါ် မူတည်၍ ဝယ်ယူဆောင်ရွက်မည်ဖြစ်ခြင်းနှင့် စက်ပစ္စည်းများသည် လုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုသည့်စက်များဖြစ်ပါသည်။

၃။ သို့ပါ၍ Sagaing Tainhong Company Limited PVC ဖုံးအုပ်ထားသော ပလတ်စတစ်အမိုးပြားများ၊ စတီးပိုက်ဖြင့် ဒီဇိုင်းစုံ အိမ်သုံးပစ္စည်းများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( သန်းသန်းလွင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
- အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
- ရုံးလက်ခံ